အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

ရက်စွဲ ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာလ ၄ ရက်

အကြောင်းအရာ။ **Myanmar Stark Prestige Plantation Co.,Ltd. ၏ လုပ်ငန်း ဆောင်ရွက်ထားရှိမှု အခြေအနေ အကျဉ်းချုပ်**

| | | | |
|---|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - | Myanmar Stark Prestige Plantation Co., Ltd. |
| ၂။ | ဖွဲ့စည်းမှုပုံစံ | - | Stark Industries Co., Ltd. (5%) မြန်မာ<br>Prestige Platform Sdn.Bhd.,(95%) မလေးရှား |
| ၃။ | လုပ်ငန်းအမျိုးအစား | - | ဆီအုန်း စိုက်ပျိုးခြင်းနှင့် သန့်စင်ပြီးစားအုန်းဆီ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း |
| ၄။ | ခွင့်ပြုမိန့်အမှတ် | - | ၄၅၇/၂၀၁၁ (၄-၂-၂၀၁၁) |
| ၅။ | တည်နေရာ | - | ကဝက်-ကော့မပြင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ တနင်္သာရီ မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။ |
| ၆။ | တည်ဆောက်ရေးကာလ | - | ၅ နှစ် (မူလ) + ၂ နှစ် ၆ လ(တိုးမြှင့်) |
| ၇။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏ- | | အမေရိကန်ဒေါ်လာ ၃၆.၇၅ သန်း |

၈။ Myanmar Stark Prestige Plantation Co.,Ltd. ကုမ္ပဏီမှ (၄-၆-၂၀၁၈) ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၌ ကျင်းပပြုလုပ်ခဲ့သည့် လုပ်ငန်းညှိနှိုင်း အစည်းအဝေး ဆုံးဖြတ်ချက် အပိုဒ်(က) အရ တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ခွင့်ပြုထားသော မြေဧရိယာ ၁၀၀၀၀ ဧက ၏ ၇၅ ရာခိုင်နှုန်း စိုက်ပျိုး ပြီးစီးပါက တစ်ဆက် တစ်စပ်တည်း မြေဧရိယာ ၆၇၂၀ ဧက အား ထပ်မံခွင့်ပြုပေးမည့် အခြေအနေအား သိရှိလိုပါ၍ တွေ့ဆုံ ဆွေးနွေးခွင့် တောင်းခံခြင်းနှင့်ပတ်သက်၍ လက်ရှိ ဆောင်ရွက်ထားရှိမှု အခြေအနေအား အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်။

**စိစစ်တင်ပြချက်**

၉။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) MSPP သည် တနင်္သာရီတိုင်းဒေသကြီး၊မြိတ်ခရိုင်၊တနင်္သာရီမြို့နယ်၊ ကဝက်-ကော့မပြင်း ဒေသတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ် ၄၅၇/၂၀၁၁ ဖြင့် ဆီအုန်းစိုက်ပျိုးခြင်းနှင့် သန့်စင်ပြီး စားအုန်းဆီ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းများအား ၂၀၁၂ ခုနှစ်တွင် စတင်အကောင်အထည်ဖော် ဆောင်ရွက်လျက်ရှိပါကြောင်း။

(ခ) ကုမ္ပဏီသည် ကော်မရှင်၏ ခွင့်ပြုမြေဧရိယာ ၃၈,၀၀၀ ဧကအား ၂၀၁၁ ခုနှစ် တွင် ခွင့်ပြုချက်ရရှိခဲ့ပြီး စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန နှင့်အတူ (Product Sharing Agreement) စာချုပ်ချုပ်ဆို ဆောင်ရွက်လျက် ရှိပါကြောင်း။

(ဂ) ကုမ္ပဏီမှ ဆီအုန်းစိုက်ပျိုးရေးလုပ်ငန်းများ အချိန်ကြာမြင့်စွာ ရပ်နားထားရမှုအား အမြန်ဆုံး ပြန်လည်အကောင်အထည်ဖော် စိုက်ပျိုးခွင့်ရရန် ကူညီဖြေရှင်းပေးပါရန် ကော်မရှင်သို့ တင်ပြခဲ့ရာ သက်ဆိုင်ရာဌာနများ၏ တာဝန်ရှိသူများနှင့် ကုမ္ပဏီမှ ကိုယ်စားလှယ် များဖြင့်(၄-၆-၂၀၁၈) ရက်နေ့တွင် လုပ်ငန်းညှိနှိုင်းအစည်းအဝေး ကျင်းပခဲ့ပါကြောင်း။

(ဃ) အဆိုပါအစည်းအဝေး ဆုံးဖြတ်ချက်အပိုဒ်(က)တွင် တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့မှ ခွင့်ပြုထားသော မြေဧရိယာ ၁၀၀၀၀ ဧက၏ ၇၅ ရာခိုင်နှုန်း စိုက်ပျိုးပြီးစီးပါက တစ်ဆက်တစ်စပ်တည်း မြေဧရိယာ ၆၇၂၀ ဧကအား ဆက်လက်

ခွင့်ပြုပေးရန် အတွက် တိုင်းဒေသကြီးအစိုးရမှတစ်ဆင့် ကော်မရှင်သို့ တင်ပြရန်နှင့် အပိုဒ်(ဂ) တွင် ကုမ္ပဏီမှ စိုက်ပျိုးရန် အဆင့်သင့်ဖြစ်နေသော ပျိုးပင် များအား မြေယာ ရှင်းလင်းပြီးဖြစ်သော မြေဧရိယာ ၁၅၀၀ ဧကတွင် စိုက်ပျိုးခွင့်ပြုရေး အတွက် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ အကြောင်းကြားရန် ဆုံးဖြတ်ခဲ့ပါကြောင်း။

(င) ကော်မရှင်မှ ၂၀၁၈ ခုနှစ် ဇွန်လ ၁၁ ရက်နေ့ ရက်စွဲပါစာဖြင့် တိုင်းဒေသကြီး အစိုးရထံသို့ MSPP မှ စိုက်ပျိုးရန် အဆင့်သင့်ဖြစ်နေသော ပျိုးပင် များအား မြေယာ ရှင်းလင်းပြီးဖြစ်သော မြေဧရိယာ ၁၅၀၀ ဧကတွင် စိုက်ပျိုးခွင့်ပြုရေး အတွက် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးအနေဖြင့် ဆက်လက် ဆောင်ရွက် ပေးနိုင်ရန် အကြောင်းကြားခဲ့ပြီး ဖြစ်ပါကြောင်း။

(စ) ကော်မရှင်ခွင့်ပြုမိန့်ဖြင့် တနင်္သာရီတိုင်းဒေသကြီးအတွင်းရှိ ဆီအုန်းစိုက်ပျိုးခြင်း လုပ်ငန်း ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများ၏ ခွင့်ပြုဧရိယာနှင့်ပြန်လည် သိမ်းဆည်းမည့် ဧရိယာများအား သတ်မှတ်နိုင်ရေးအတွက် ကော်မရှင်၏ ၄/၂၀၀၈ အစည်းအဝေးသို့ တင်ပြရရှိလာသောဆုံးဖြတ်ချက်နှင့်အညီ တိုင်းဒေသကြီးအစိုးရ အဖွဲ့ထံသို့ သဘောထားမှတ်ချက်တောင်းခံခဲ့ရာ MSPP ကုမ္ပဏီအား ကော်မရှင်မှ မြေဧရိယာ ၃၈၀၀၀ ဧကခွင့်ပြုခဲ့သည့်အနက်မှဧက ၁၉၀၀၀ ခန့်ကိုသာ ဆက်လက် စိုက်ပျိုးမြေအဖြစ် ပြင်ဆင်သတ်မှတ်သင့်ပါကြောင်းနှင့် လက်ရှိစိုက်ပျိုးပြီးဧက အပါအဝင် မြေဧရိယာ ၁၀၀၀၀ ဧကခန့်သာ ခွင့်ပြုပေးသင့်ပါကြောင်း သဘော ထား ပြန်ကြားခဲ့ပါကြောင်း။

(ဆ) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ တိုင်းဒေသကြီးအတွင်း ကော်မရှင်ခွင့်ပြုမိန့်ဖြင့် ဆီအုန်းစိုက်ပျိုးခြင်းလုပ်ငန်း လုပ်ကိုင်လျက်ရှိသော ကုမ္ပဏီများအနက် MSPP ကုမ္ပဏီအား နောက်ဆုံးခွင့်ပြုနိုင်မည့် ဧရိယာအား အတည်ပြုမြေပုံနှင့်တကွ ကော်မရှင်အစည်းအဝေးတွင် အတည်ပြုနိုင်ရန် သဘောထားမှတ်ချက် ပြန်ကြားလာခြင်းအား ၂၀၁၈ ခုနှစ်၊စက်တင်ဘာလ ၂၈ ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆/၂၀၁၈) အစည်းအဝေးသို့ တင်ပြခဲ့ပါကြောင်း။

(ဇ) ကော်မရှင်အစည်းအဝေးမှ တိုင်းဒေသကြီး အစိုးရအဖွဲ့၏ စိုက်ပျိုးပြီး ဧက အပါအဝင် နောက်ဆုံး ခွင့်ပြုနိုင်မည့် ဧရိယာ (၁၀၀၀၀) ဧက အား သစ်တော ထူထပ်သည့် ဧရိယာ၊ ဒေသခံ ကျေးရွာများ နှင့် ဒေသခံ တောင်သူများ၏ ဥယျာဉ်ခြံမြေ လုပ်ကွက်များအား ချန်လှပ် ၍ ခွင့်ပြုပေးနိုင်ရန် တင်ပြချက်အား အတည်ပြု ကြောင်း ဆုံးဖြတ်ခဲ့ပါကြောင်း။

(ဈ) ကော်မရှင်မှ ၂၀၁၀၈ ခုနှစ် အောက်တိုဘာလ ၂ ရက်နေ့ရက်စွဲပါစာဖြင့် ကော်မရှင် အစည်းအဝေးဆုံးဖြတ်ချက်အား သိရှိနိုင်ရန်နှင့် လိုအပ်သလို ဆက်လက် ဆောင်ရွက်ရန် အကြောင်းကြားခဲ့ပါကြောင်း။

၁၀။ သို့ဖြစ်ပါ၍ MSPP ကုမ္ပဏီ၏ လက်ရှိဆောင်ရွက်ထားရှိမှု အခြေအနေနှင့်(၄-၆-၂၀၁၈) ရက်နေ့ တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၌ ကျင်းပပြုလုပ်ခဲ့သည့် လုပ်ငန်းညှိနှိုင်း အစည်းအဝေး ဆုံးဖြတ်ချက် အပိုဒ်(က)အရ တိုင်းဒေသကြီးအစိုးရအဖွဲ့မှ ခွင့်ပြုထားသော မြေဧရိယာ ၁၀၀၀၀ ဧက

အထွေထွေ အရပ်ရပ် -၁၆
(ရုံးတွင်း စာအကျဉ်းချုပ် (သို့မဟုတ်) စာကြမ်းရေးရန်အတွက်)

၏ ၇၅ ရာခိုင်နှုန်း စိုက်ပျိုး ပြီးစီးပါက တစ်ဆက် တစ်စပ်တည်း မြေဧရိယာ ၆၇၂၀ ဧက အား ထပ်မံ ခွင့်ပြုပေးမည့် အမခြေအနေအား သိရှိလိုပါ၍ တွေ့ဆုံ ဆွေးနွေးခွင့်ပြုနိုင်ပါရန် တင်ပြလာခြင်းအား တင်ပြအပ်ပါသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်

ရှေ့နေချုပ်ရုံး

နေပြည်တော်



စာအမှတ်၊ ၂(၅) ၁၄ - ၇၁/နပတ( ၄၉၄ )

ရက်စွဲ၊ ၂၀၁၀ ပြည့်နှစ်၊ ဩဂုတ်လ ၂၅ ရက်

အကြောင်းအရာ။ Myanmar Stark Prestige Plantation Co., Ltd နှင့် မြန်မာ့နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာနတို့မှ ဆီအုန်းစိုက်ခင်းများထူထောင်ရန် ချုပ်ဆိုမည့်စာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စ

ရည် ညွှန်း ချက် ။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၅-၈-၂၀၁၀ ရက်စွဲပါစာအမှတ်၊ ၁၁/S.T (၆၃၃/၂၀၁၀)

၁။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာနနှင့်မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် မြန်မာနိုင်ငံ Stark Industries Co., Ltd တို့ပူးပေါင်း၍ တည်ထောင်ထားသောဖက်စပ်ကုမ္ပဏီသည် တနင်္သာရီတိုင်း၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝက်ဒေသတွင် ဆီအုန်းဧက (၂၅,၀၀၀) စိုက်ပျိုးမည့်စီမံကိန်းအတွက်ချုပ်ဆိုမည့် Product Sharing Agreement (မူကြမ်း)အပေါ်သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့်မေတ္တာရပ်ခံလာသည့်ကိစ္စဖြစ်ပါသည်။

၂။ ပေးပို့လာသောစာချုပ်(မူကြမ်း)အရ စာချုပ်ဝင်များမှာ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ နှစ်ရှည်ပင်နှင့် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန MICDE (PCFD) နှင့် Myanmar Stark Prestige Plantation Co., Ltd (MSPP) တို့ချုပ်ဆိုမည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၃။ ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသော Product Sharing Agreement (မူကြမ်း)ကို ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်းသုံးသပ် အကြံပြုအပ်ပါသည်-

(က) ရည်ညွှန်းချက်ပါစာအရ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနနှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် မြန်မာနိုင်ငံ Stark Industries Co., Ltd,

တို့ ပူးပေါင်းတည်ထောင်ထားသောဖက်စပ်ကုမ္ပဏီတို့အကြား ချုပ်ဆိုမည်စာချုပ်ဖြစ်ကြောင်းဖော်ပြထားသော်လည်း စာချုပ်(မူကြမ်း)တွင် အဆိုပါဖက်စပ်ကုမ္ပဏီနှင့် ပတ်သက်၍ မည်သို့ဖွဲ့စည်းထားကြောင်းဖော်ပြထားခြင်းမရှိသဖြင့် ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ခ) စာချုပ်(မူကြမ်း)၏ Definitions Article 1.11 နှင့် ရည်ညွှန်းချက်ပါစာတို့တွင် ဆီအုန်းဧက ၂၅,၀၀၀ စိုက်ပျိုးမည်ဟုဖော်ပြထားသော်လည်း Article 4 တွင် ရည်ညွှန်းထားသော နောက်ဆက်တွဲမြေပုံ Annex 1 တွင် ဧက ၃၈,၀၀၀ ဟု ဖော်ပြထားသဖြင့် မှန်ကန်မှုရှိစေရန် ဌာနမှ စိစစ်သင့်ပါသည်၊

(ဂ) ယခုစာချုပ် (မူကြမ်း) အရမြေကိုအခကြေးငွေဖြင့် ငှားရမ်းခြင်းမဟုတ်ဘဲ Products Sharing စနစ်ဖြင့်ဆောင်ရွက်ရာတွင်မြေကိုနှစ်ရှည်ကာလအပိုင်းအခြားဖြင့် အသုံးပြုခွင့်ပေးမည့်အစီအစဉ်ဖြစ်ပါ၍ စာချုပ်(မူကြမ်း) Article 4 ၏ ခေါင်းစဉ်ကို The Utilization of the Granted Land ဟု ပြောင်းလဲဖော်ပြရန်နှင့် အခြားစာချုပ်(မူကြမ်း)၏ အခြားအပိုဒ်များရှိ Tenancy ဟူသောအသုံးအနှုန်းများကို Article 4 ပါခေါင်းစဉ်နှင့် ဆီလျော်စွာ ပြောင်းလဲဖော်ပြသုံးနှုန်းရန်ဖြစ်ကြောင်း အကြံပြုပါသည်၊

(ဃ) စာချုပ်(မူကြမ်း)အပိုဒ် 4 TENANCY OF LAND အပိုဒ်တွင် MICDE (PCFD) သည် MSPP သို့ မြေဧက ၃၈,၀၀၀ ကို ဆီအုန်းစိုက်ပျိုးရေးလုပ်ငန်းအတွက် ငှားရမ်းမည်ဖြစ်ကြောင်းနှင့် အပိုဒ် 6.1 တွင် ထိုသို့ငှားရမ်းရာ၌ မည်သည့်အခကြေးငွေမျှမပါရှိဘဲ ငှားရမ်းမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့ဖြစ်ရာ ယခုစာချုပ်(မူကြမ်း)အရ ထုတ်လုပ်မှုကိုခွဲဝေသည့်စနစ်ဖြင့် ဆီအုန်းစိုက်ပျိုးထုတ်လုပ်ရန်ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)၏အပိုဒ် 5.16 (a)အရ ထုတ်လုပ်မှုစတင်မှသာ ထုတ်လုပ်မှုအပေါ်ခွဲဝေခံစားမှုစတင်မည်ဟုဖော်ပြထားရာ ထုတ်ကုန်ထုတ်လုပ်ခြင်းမပြုမီ ကာလအတွင်း ဌာနအနေဖြင့် မည်သည့်အကျိုးအမြတ်မှမရှိသည်ကို သတိပြုသင့်ပါသည်။ ထို့အပြင် ဌာနလိုအပ်ချက်နှင့်အညီ ထုတ်ကုန်ထွက်ရှိခြင်းမရှိပါက မည်သို့ဆောင်ရွက်မည်ကို ဌာနအနေဖြင့်စဉ်းစားသင့်ပါသည်။ ထို့ကြောင့် မြေအသုံးချမှုနှင့်စပ်လျဉ်း၍ Land Use

Premium ရယူရန်သင့် မသင့် ယခုစာချုပ်ချုပ်ဆိုခြင်း အတွက် Signature Bonus ရယူရန်သင့် မသင့် ဌာနမှစဉ်းစားသင့်ပါသည်၊

(င) ထို့ပြင် ယခုစာချုပ်(မူကြမ်း)အရ ဆီအုန်းစိုက်ပျိုးမည့်လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းဖြစ်ပါ၍ စာချုပ်(မူကြမ်း)Article 6.1 တွင် မြေကိုလွှဲပြောင်းခြင်း assign ပြုလုပ်မည်ဖြစ်ကြောင်းဖော်ပြချက်သည် ၁၉၈၇ ခုနှစ်မရွှေ့မပြောင်းနိုင်သောပစ္စည်းလွှဲပြောင်းခြင်းကိုကန့်သတ်သည့်ဥပဒေနှင့်ညီညွတ်ခြင်းမရှိပါသဖြင့် assign စကားရပ်အစား MICDE(PCF) shall grant the utilization of the Land to MRPP ဟုပြင်ဆင်သုံးစွဲရန် အကြံပြုပါသည်၊

(စ) စာချုပ်(မူကြမ်း)အပိုဒ် 6 Rights and Obligations of MICDE (PCFD) အပိုဒ်ခွဲ 6.3 ပါ တာဝန်များကို ဌာနမှဆောင်ရွက်ပေးနိုင်ခြင်းရှိ မရှိစိစစ်ရန်လိုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် 6.6 ပါ တာဝန်များဖြစ်သည့် လျှပ်စစ်၊ ဆက်သွယ်ရေး၊ ပို့ဆောင်ရေးနှင့်ဆက်နွယ်သည့်ကိစ္စများကိုလည်း ဌာနမှ ပူးပေါင်းကူညီဆောင်ရွက်ပေးရမည်ဖြစ်ရာသက်ဆိုင်ရာဝန်ကြီးဌာနများနှင့် ကြိုတင်ညှိနှိုင်းထားရန်လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)Article 7 Effective Date and Term တွင် စာချုပ်သက်တမ်းမှာ (၃၄)နှစ်ဖြစ်ပြီး ထပ်မံ၍(၂၆)နှစ်တိုးမြှင့်နိုင်ကြောင်း၊(၂၆)နှစ်သက်တမ်းတိုးမြှင့်ရာတွင်လည်း(၃၄)နှစ်သက်တမ်းမကုန်ဆုံးမီ သက်တမ်း(၅)နှစ်တိုးမြှင့်ရန်ကုမ္ပဏီမှတင်ပြရမည်ဟုဖော်ပြထားပါသည်။ ဖော်ပြထားချက်များမှာရှင်းလင်းမှုမရှိသဖြင့် ဌာနမှပြန်လည်စိစစ်ရန်ဖြစ်ပါသည်။ ထို့အပြင်စာချုပ်(မူကြမ်း)အပိုဒ် 7.1 တွင် ရည်ညွှန်းထားသည့် Article 17 မှာ Arbitration စာပိုဒ်ဖြစ်ကြောင်းတွေ့ရှိရပါသဖြင့် ဌာနက ရည်ညွှန်းသည့်စာပိုဒ်များမှန်ကန်မှုရှိ မရှိ စိစစ်ရန်လိုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)Article 8 Ownership of Properties အပိုဒ်ခွဲ 8.2 တွင် စာချုပ်သက်တမ်းကုန်ဆုံးခြင်း(သို့)စာချုပ်တစ်ဖက်က စာချုပ်ကိုရပ်စဲခြင်းတွင် MSPP သည် ငှားရမ်းသည့်မြေပေါ်ရှိ အဆောက်အဦးများ၊ စက်ရုံများ၊ စိုက်ပျိုးထားသည့်အပင်များစသည့်မရွှေ့မပြောင်းနိုင်သည့်ပစ္စည်းအားလုံး( all immovable properties )ကို ပိုင်

ဆိုင်ခွင့်ရှိသည်ဟုဖော်ပြထားချက်သည် ၁၉၈၇ ခုနှစ်မရွှေ့မပြောင်းနိုင်သောပစ္စည်းလွှဲပြောင်းခြင်းကိုကန့်သတ်သည့်ဥပဒေနှင့် ညီညွတ်ခြင်းမရှိသဖြင့် ယင်းအပိုဒ်အားပယ်ဖျက်သင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း)Article 9 တွင် ရည်ညွှန်းဖော်ပြထားပြီး နောက်ဆက်တွဲအဖြစ်ပူးတွဲထားသောဘဏ်အာမခံပုံစံမှာ မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်မှ သတ်မှတ်ထားသည့်ဘဏ်အာမခံပုံစံဖြစ်ရန်နှင့်စာချုပ်ပါစည်းကမ်းချက်များနှင့် ညီညွတ်ရန်လိုအပ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း)Article 17 Arbitration တွင်အငြင်းပွားမှုပေါ်ပေါက်လာလျှင် နှစ်ဖက်ငြိမ်းချမ်းစွာဖြေရှင်းရန်နှင့် ထိုသို့ဖြေရှင်း၍မရပါက UNCITRAL RULES ဖြင့် Singapore Arbitration Center တွင် ဖြေရှင်းပေးရန်ဖော်ပြထားပါသည်။ Arbitration Committee ၏ဆုံးဖြတ်ချက်အတွက်ဆောင်ရွက်ရန်ကိစ္စများ၊ အမှုကုန်ကျစရိတ်တို့နှင့် စပ်လျဉ်း၍ ဖော်ပြထားချက်များမှာ UNCITRAL RULES နှင့်ကိုက်ညီရန်လိုအပ်ပါသည်။ ထို့အပြင် UNCITRAL RULES ဖြင့်မြန်မာနိုင်ငံတွင်ဖြေရှင်းရန်ညှိနှိုင်းသင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း)အပိုဒ် 20 Termination အပိုဒ် 20.1(d)တွင် Force Majeure အနည်းဆုံး(၁၂)လဖြစ်ပွားပါက စာချုပ်ရပ်စဲနိုင်သည်ဟုဖော်ပြထားရာ (၁၂)လမှာကာလကြာမြင့်သည်ဟု ယူဆပါသဖြင့် ဌာနမှပြန်လည်စိစစ်ရန် ဖြစ်ပါသည်၊

(ဍ) လိုအပ်သောနေရာများတွင် မင်နီဖြင့် ပြင်ဆင်ပေးထားပါသည်။

၄။ စာချုပ်(မူကြမ်း)မှာ ဆီအုန်းစိုက်ပျိုးရေးထုတ်လုပ်ရောင်းချခြင်းအတွက် မြေဧက ၂၅,၀၀၀ အားဆောင်ရွက်ခွင့်ပေးခြင်းဖြစ်၍ ယခင်နိုင်ငံတော်ငြိမ်ဝပ်ပိပြားရေးတည်ဆောက်ရေးအဖွဲ့၏ ၂၆-၁-၉၅ ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ် ၁၂/၉၅ နှင့် ညီညွတ်ရန်လိုအပ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ဥပဒေကြောင်းအရသာစိစစ်ခြင်းဖြစ်၍ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်

မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်း ဆောင်ရွက်ရန် အကြံ ပြုပါသည်။

၆။ Myanmar Stark Prestige Plantation Co., Ltd သည် သက်ဆိုင်ရာနိုင်ငံ၏ ဥပဒေအရ တရားဝင်ဖွဲ့စည်းထားသောကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့် လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ထားခြင်းခံရသူဟုတ် မဟုတ် စသည်တို့ အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

၇။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင် ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(တာဝန်)(ကိုယ်စား)
( ကျော်ဆွန်း၊ ညွှန်ကြားရေးမှူး )

လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး



M-017-Document DPNNF.Myanmar Stark Co., Ltd(20-8-2010).doc

၁၀၄၁၉
၂၇.၈.၁၀

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန
နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန
နေပြည်တော်

စာအမှတ်၊နစ/ ယ-၁/၃၂၁ /၂၀၁၀ (၃၄၂၈ )
ရက်စွဲ၊ ၂၀၁၀ခုနှစ်၊ ဩဂုတ်လ (၂၀ )ရက်

အကြောင်းအရာ ။ ။ မြန်မာ့စက်မှု သီးနှံဖွံ့ဖြိုးရေးလုပ်ငန်း ၊ နှစ်ရှည်ပင် နှင့် စိုက်ပျိုး မွေးမြူရေး လုပ်ငန်းဌာန MICDE (PCFD) နှင့် Myanmar Stark Prestige Plantation Co., Ltd. (MSPP)တို့လက်မှတ်ရေးထိုးမည့် ထုတ်လုပ်မှု အပေါ် ခွဲဝေခံစားခြင်း သဘောတူ စာချုပ် (မူကြမ်း) အပေါ် သဘောထား မှတ်ချက်ပေး ရန်ကိစ္စ။

ရည်ညွှန်းချက် ။ ။လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာန ၏ (၅-၈-၂၀၁၀) ရက်စွဲပါ စာအမှတ် ၁၀/S 11(၆၃၃/၂၀၁၀)

လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန ၊ မြန်မာ့စက်မှု သီးနှံဖွံ့ဖြိုးရေးလုပ်ငန်း ၊ နှစ်ရှည်ပင် နှင့် စိုက်ပျိုး မွေးမြူရေး လုပ်ငန်းဌာန MICDE (PCFD) နှင့် Myanmar Stark Prestige Plantation Co., Ltd. (MSPP)တို့လက်မှတ်ရေးထိုးမည့် ထုတ်လုပ်မှု အပေါ်ခွဲဝေ ခံစားခြင်း သဘောတူစာချုပ် (မူကြမ်း) အပေါ် အောက်ပါသဘောထား မှတ်ချက်များ ပေးပို့အပ်ပါသည်။

- ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားခြင်း သဘောတူ စာချုပ်(မူကြမ်း) အရ MSPP မှ တနင်္သာရီ မြို့နယ် ၊ ကဝက် - ကော့မပြင်းဒေသ တွင် နိုင်ငံခြားရင်း နှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ရာနှုန်းပြည့် ရင်းနှီးမြှုပ်နှံ၍ ဆီအုန်း စိုက်ပျိုးခြင်း နှင့် ဆီအုန်းစက်ရုံတည်ထောင်ခြင်းနှင့် အခြားဆက်စပ်လုပ်ငန်းများကိုဆောင်ရွက်ရန် ဖြစ် ကြောင်းတွေ့ရှိရပါသည်။
- သဘောတူ စာချုပ်(မူကြမ်း) တွင် MSPP သည် ပြည်တွင်းကုမ္ပဏီမှ ၂၀ % နှင့် ပြည်ပကုမ္ပဏီမှ ၈၀ % အသီးသီးအစုရှယ်ယာ ထည့်ဝင်ဖွဲ့စည်းထားသော ဖက်စပ်ကုမ္ပဏီ အဖြစ်ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။
- သဘောတူ စာချုပ်(မူကြမ်း) အရ ရင်းနှီးမြှုပ်နှံမှု ကာလကို ကနဦး ကာလ (၃၄) နှစ် နှင့် တိုးမြှင့်ကာလ (၂၆) နှစ်သတ်မှတ်ထား ကြောင်းတွေ့ရှိရပါသည်။
- သဘောတူ စာချုပ်(မူကြမ်း) အပိုဒ်- ၄.၁ အရ MSPP သို့မြေ ဧက (၃၈,၀၀၀) ငှားရမ်းမည် ဖြစ်ရာ သီးခြား မြေငှား စာချုပ် ချုပ်ဆိုထားခြင်းမရှိသေးကြောင်း တွေ့ရှိရ ပါသည်။
- သဘောတူ စာချုပ်(မူကြမ်း) အပိုဒ်- ၅.၁၆ တွင် ဖော်ပြထားသော ခွဲဝေခံစားမှု အချိုး နှင့်စပ်လျဉ်း၍ MICDE (PCFD) မှ စိစစ်လက်ခံရန်ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။
- သဘောတူ စာချုပ်(မူကြမ်း) အပိုဒ်-၇.၃ နှင့်စပ်လျဉ်း၍ တိုးမြှင့် ကာလ အတွင်း ခွဲဝေ ခံစားမှု အချိုးကို ပြန်လည်သုံးသပ်ညှိနှိုင်းပြီးမှသာ သတ်မှတ်သင့်ပါကြောင်း အကြံပြု အပ်ပါသည်။

Memo ဖော်ပြထား၍
၂၅၁၀

၂၄၅၁
၂၅.၈.၁၀

၂၇.၈.၁၀

- သဘောတူ စာချုပ်(မူကြမ်း) အပိုဒ်- ၆.၁ နှင့် အပိုဒ်- ၂၀.၁ တို့တွင် မင်နီဖြင့်ပြင်ဆင်ထားသည့် အတိုင်းချုပ်ဆိုသင့်ပါကြောင်း အကြံပြုအပ်ပါသည်။
- သဘောတူ စာချုပ်(မူကြမ်း) အပိုဒ်- ၁၅ နှင့် ၁၇ ပါ Arbitration ဆိုင်ရာ ဖော်ပြချက်များနှင့် စပ်လျဉ်း၍ ရှေ့နေချုပ်ရုံး၏ သဘောထားကိုရယူ သင့်ပါကြောင်း အကြံပြုအပ် ပါသည်။
- စာချုပ် (မူကြမ်း) ပါ ရာခိုင်နှုန်းပြည့် ရင်းနှီးမြှုပ်နှံမှု ဆိုင်ရာ ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ပြည်ထောင်စု မြန်မာနိုင်ငံ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေနှင့် အထူးကုမ္ပဏီများ အက်ဥပဒေတို့ နှင့် အညီဆောင်ရွက်ရန် ဖြစ်ပါကြောင်း ဖော်ပြ အပ်ပါသည်။
- စာချုပ်(မူကြမ်း)ပါ လုပ်ငန်းကျွမ်းကျင်မှု ဆိုင်ရာ သတ်မှတ်ချက်များ နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်မည့် အဖွဲ့အစည်းမှ တာဝန်ယူစိစစ်ရန် ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည်။

ထုတ်လုပ်မှု အပေါ် ခွဲဝေ ခံစားခြင်း သဘောတူစာချုပ် ချုပ်ဆို ပြီးပါက မိတ္တူ (၂) စောင် ကို၌ဦးစီးဌာနသို့ ပေးပို့ပေးပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား )
(မောင်မောင်ခင်-ဒုတိယညွှန်ကြားရေးမှူးချုပ်)

<u>လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန</u>
မိတ္တူ - မျှောစာ

sharing amount shall be provided to MICDE (PCFD) in accordance with Agreement. If the actual production is less than the expected production related to the article 5.16, the committee will be submitting the actual production to the Minister of the Ministry of Agriculture and Irrigation for final approval of product sharing for MICDE(PCFD). If the actual area of land developed is less than the expected area to be developed according to the plan, MSPP Co., Ltd, in consultation with MICDE (PCFD) shall propose revised plan for land development.

5.18 The receiving method of product sharing for MICDE (PCFD) shall be determined either commodity or cash transaction. MICDE (PCFD) shall notify MSPP Co., Ltd not later than 1st of April of every year. In case of commodity transaction, the term of delivery is EX-Factory. In case of cash transaction, MSPP Co., Ltd shall be selling the commodities first and be sharing MICDE (PCFD) based on actual selling price which is agreeable to both parties. The related tax for MICDE (PCFD) portion (i.e product shared to MICDE (PCFD)) which is paid at selling transaction shall be deducted from the amount of MICDE (PCFD) and deposit this amount at the bank account assigned by MICDE (PCFD) within 1 month after actual cash transaction.

5.19 The employment of all officers, experts, consultants and employees to be engaged in the operations of oil palm plantation and palm oil production of MSPP Co., Ltd, the payment covering reasonable expenses including social welfares, incentives and bonus shall be made under the supervision of Board of Directors.

## Article 6. RIGHT AND OBLIGATIONS OF MICDE (PCFD)

6.1 MICDE (PCFD) shall assign the land to MSPP Co., Ltd without payment and shall pay land revenue~~, if necessary.~~

6.2 MICDE (PCFD) shall not sell, transfer, assign, lease, let usage and/or let the Tenancy of land to a third Party or Parties during the period of tenancy and extension thereof.

6.3 MICDE (PCFD) shall assist MSPP Co., Ltd in doing the business of MSPP Co., Ltd including developing and cultivating the tenancy of granted land, clearing the tenancy of granted land, setting up camps, establishing and operating crude palm oil mill, refinery, workshop for heavy vehicle and machines, relocation of local residents or farmers, settle any land claims, and/or doing all other related Business, etc in accordance with the existing laws of the Union of Myanmar. In particular, in case that MSPP Co., Ltd needs the necessary approval of local authorities or agreement of residents and farmers, etc., MICDE (PCFD) shall provide full assistance or apply to achieve the above approval or agreement.

## Article 20. TERMINATION

with the approval of Myanmar Investment Commission

20.1 This Agreement may be terminated upon the occurrence of one of the following events:

a) By mutual consent of the parties:

b) Substantial and continuous losses of MSPP Co., Ltd and its official announcement of the termination of its Business:

c) Breach of term of Agreement by one of the parties and if such breach is not cured within 90 days after a breaching Party receives a written notice of such breach from the other Party:

d) Occurrence of Force Majeure at least for twelve (12) months:

## Article 21. LANGUAGES AND CORRESPONDENCES

21.1 This Agreement shall be written in English and all correspondences related to this Agreement shall be in English.

## Article 22. NOTICE

22.1 All notices, requests and other communications required to be given or sent hereunder shall be in English and be left or sent by prepaid registered post (airmail, if overseas) or telex or electronic mail or facsimile transmission or international courier to the Party concerned as given underneath describing the name and address or address as the Party concerned shall have notified in concurrence with this Clause to the other Party.

| | |
|---|---|
| MICDE<br>(PCFD) | **Myanmar Industrial Crops Development Enterprise**<br>**(Perennial Crops and Farm Department)**<br>No. 31. Thirimingla Avenue, Kabar Aye Pagoda Road, Yangon, Union of Myanmar.<br>Fax : +95 1 667446 |
| MSPP Co., Ltd | **Myanmar Stark Prestige Plantation Co., Ltd.**<br>No. 33, Bo Yar Nyut Road, Dagon Township, Yangon 11191, Union of Myanmar.<br>Fax : + 95 1 388086<br>e-mail-sicl@yangon.net.mm |

## Article 23. MISCELLANEOUS

23.1 All appendixes attached hereto shall form an integral part of this Agreement.

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရ
ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ဘခ - ၁/၂၄၄ (၁၃၈၆ /၂၀၁၀)
ရက်စွဲ ၊ ၂၀၁၀ ခုနှစ် ၊ စက်တင်ဘာလ ၇ ရက်

သို့

ဝန်ကြီး
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၏ ၅-၈-၂၀၁၀ ရက်စွဲပါ စာအမှတ်၊ ၁၁/SI (၆၃၃/၂၀၁၀)

၁။ လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန(MICDE (PCFD))နှင့် မြန်မာနိုင်ငံ Stark Industries Co.,Ltd နှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd တို့အကျိုးတူပူးပေါင်းဆောင်ရွက်မည့် Myanmar Stark Prestige Plantation Co.,Ltd (MSPP)တို့ တနင်္သာရီတိုင်း၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝက်ဒေသတွင် ဆီအုန်းဧက (၂၅,၀၀၀)စိုက်ပျိုးရေးလုပ်ငန်းအား Product Sharing စနစ်ဖြင့် ဆောင်ရွက်ရန် ချုပ်ဆိုမည့် သဘောတူစာချုပ်(မူကြမ်း)အပေါ် ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ၈၀%နှင့် ပြည်တွင်းကုမ္ပဏီ၏ ရင်းနှီးမြှုပ်နှံမှု ၂၀% တို့ဖြင့် Myanmar Stark Prestige Plantation Co.,Ltd (MSPP Co.,Ltd) ဖက်စပ်ကုမ္ပဏီ ထူထောင်ပြီး ဆီအုန်းစိုက်ပျိုးထားခြင်းအား Product Sharing Agreement ဖြင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်ခြင်းဖြစ်၍ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက် ရယူရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေပါ သတ်မှတ်ပြဋ္ဌာန်းချက် များနှင့်အညီ လုပ်ကိုင်ဆောင်ရွက်ရန်လိုအပ်ပါမည်။

(ခ) စာချုပ်အပိုဒ် (၈.၂) တွင် MICDE(PCFD)၏ ပျက်ကွက်မှုကြောင့် နှစ်ဖက် သဘောတူညီသည့် သက်တမ်းမကုန်ဆုံးမီ သဘောတူစာချုပ်အား ဖျက်သိမ်းရသည့်အခါ ငှားရမ်းထားသည့် မြေပေါ်တွင် တည်ဆောက်ထားသော မရွှေ့ပြောင်းနိုင်သော ပစ္စည်းများ ( အဆောက်အဦများ၊ မြေပေါ်မြေအောက်တွင် စိုက်ပျိုးထားသောအပင်များနှင့် ဆောက်လုပ်ထားသော အဆောက်အဦများနှင့်ဆက်စပ်၍ အသုံးပြုသော စိုက်ပျိုးရေးဆိုင်ရာ ပစ္စည်းကိရိယာများအပါအဝင်) အားလုံးကို MSPP မှပိုင်ဆိုင်ခွင့်ရှိသည်ဟူသည့် ဖော်ပြချက်နှင့်စပ်လျဉ်း၍မြေကို နိုင်ငံတော်က ပိုင်ဆိုင်သောကြောင့် နိုင်ငံတော်ပိုင်ဆိုင်သော မြေပေါ်ရှိ အဆောက်အအုံ၊ စိုက်ပျိုးပင်များကို MSPP က ပိုင်ဆိုင်ခွင့် မရှိဘဲ ဖျက်သိမ်းရယူခွင့်သာရှိမည်ဟုယူဆရပါသည်။ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် ရယူသင့်ပါသည်။

(ဂ) စာချုပ်အပိုဒ်(စ.၂)တွင် MICDE(PCFD)၏ ပျက်ကွက်မှုကြောင့်ဟု ဖော်ပြရမည့်အစား MOCDE(PCFD)ဟု မှားယွင်းဖော်ပြထားရာ အမှန် ပြင်ဆင်သင့်ပါသည်။

(ဃ) စာချုပ်သက်တမ်းအား မူလငှားရမ်းမှုကာလ(၃၄)နှစ်ထက်ကျော်လွန်ပြီး ထပ်မံငှားရမ်းမည့်ကာလများအတွက် မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြု ချက်အရသာ ဆောင်ရွက်သင့်ပါသည်။

(င) စာချုပ်အပိုဒ် ၁၆.၁ တွင် မမျှော်လင့်ဘဲ ရရှိလာသော သယံဇာတများ၏ ပိုင်ဆိုင်ခွင့်အား ဖက်စပ်ကုမ္ပဏီသည် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန၊ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာနနှင့် ညှိနှိုင်းနိုင်သည်ဟုဖော်ပြချက်အား သတိပြုသင့်ပါသည်။

(စ) စာချုပ်အပိုဒ် ၁၇ ARBITRATION နှင့်ပတ်သက်၍ ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်ကို ရယူသင့်ပါသည်။

(ဆ) လုပ်ငန်းဆောင်ရွက်မည့် မြေနှင့်ပတ်သက်၍ ငွေပေးချေရန်မလိုပါဟု ဖော်ပြထားပါသည်။ နိုင်ငံတော်ပိုင်မြေဖြစ်သဖြင့် မြေငှားရမ်းခ ကောက်ခံသင့်ပါသည်။

(ဇ) Performance Bank Guarantee ကို ဘဏ္ဍာရေးနှစ်တစ်နှစ်စီ၏ ပထမလတွင်တင်သွင်းမည်ဖြစ်ပြီး သက်ဆိုင်ရာနှစ်၏ မျှော်မှန်းထားသော development plan ပြီးဆုံးသည့်အထိ သက်တမ်းရှိသည်ဟုဖော်ပြထားပါသည်။ ဘဏ္ဍာရေးနှစ် အလိုက် Performance Bank Guarantee တင်သွင်းမည်ဆိုပါက သက်တမ်းကို သက်ဆိုင်ရာ ဘဏ္ဍာနှစ်ထိထားရှိသင့်ပြီး၊ Performance Bank Guarantee ကို တစ်ကြိမ်တည်းသာ ထားရှိမည်ဆိုပါက product sharing စတင်သည့်အထိ သက်တမ်းထားရှိသင့်ပါသည်။

(ဈ) အဆိုပါ Product Sharing Agreement (မူကြမ်း)တွင် အခွန်ဆိုင်ရာကိစ္စရပ်များ ဖော်ပြထားခြင်းမရှိသော်လည်း အပိုဒ်-၁၀ "Exemptions and Reliefs" ခေါင်းစဉ်အောက်တွင် "MSPP Co.,Ltd သည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ပြဋ္ဌာန်းထားသော ကင်းလွတ်ခွင့်၊ သက်သာခွင့်များနှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေတွင် ခွင့်ပြုထားသည့် အခြားသော ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များအား အကျိုးခံစားခွင့် ရှိစေရမည်"ဟု ဖော်ပြထားခြင်း၊ အပိုဒ်-၆ "Right and Obligations of MICDE (PCFD)" ခေါင်းစဉ်၊ အပိုဒ်ခွဲ-၁ တွင် "နှစ်ရှည်ပင် နှင့်စိုက်ပျိုးမွေးမြူရေး လုပ်ငန်းဌာနမှ MSPP CO.,Ltd ကို အခမဲ့မြေငှားရမ်းမည်ဖြစ်ပြီး၊ လိုအပ်ပါကမြေခွန်ကိုသာ ပေးသွင်းရမည်" ဟုဖော်ပြပါရှိသဖြင့် အဆိုပါ ဖော်ပြချက်များအပေါ် သဘောထား မှတ်ချက် ပြုရန် မရှိပါ။

(ည) စာချုပ်(မူကြမ်း)၏ အပိုဒ်-၅ "Right and Obligations of MSPP Co.,Ltd" ခေါင်းစဉ်၊ အပိုဒ်ခွဲ-၄တွင် "MSPP Co.,Ltd အနေဖြင့် ဆီအုန်းစိုက်ပျိုးခြင်းနှင့်ထွက်ရှိသည့် ထွက်ကုန်များနှင့်ဘေးထွက်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချ ခြင်းတို့ကို လုပ်ကိုင်ခွင့်ရရှိခြင်း" အပိုဒ်ခွဲ -၆ တွင် "MSPP Co.,Ltd သည် ဆီအုန်းစက်ရုံ၊ သန့်စင်စက်၊ သိုလှောင်ရုံနှင့် အဆောက်အဦများ တည်ဆောက်ခွင့် ရရှိခြင်း" တို့ ဖော်ပြပါရှိပါသည်။ အဆိုပါ ထွက်ရှိသည့် ဆီအုန်း၊ ထွက်ရှိသည့်စားအုန်းဆီနှင့် ဘေးထွက်ပစ္စည်းများအား စီးပွားဖြစ်လုပ်ငန်းစတင်သည့်နေ့မှစ၍ ကျပ်ငွေဖြင့် ရောင်းချပါက ကုန်သွယ်လုပ်ငန်းခွန် ဥပဒေနောက်ဆက်တွဲဇယား-၁ အရ ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့် ရရှိမည်ဖြစ်သော်လည်း၊ အဆိုပါ ကုန်ပစ္စည်း များအား ပြည်ပသို့တင်ပို့၍ နိုင်ငံခြားငွေဖြင့်ရောင်းချပါက အဆိုပါရောင်းရငွေအပေါ် ရရှိသည့် နိုင်ငံခြားငွေဖြင့် ကုန်သွယ်လုပ်ငန်းခွန် ၈% ကို ဘဏ္ဍာရေးနှင့်အခွန် ဝန်ကြီးဌာန၏ ၃၁-၁၂-၂၀၀၉ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၂/၂၀၁၀ အရ ပေးဆောင်ရမည်ဖြစ်ပါသည်။

(ဋ) ထို့ပြင် MSPP Co.,Ltd က ဆီအုန်းစက်ရုံ၊ သန့်စင်စက်၊ သိုလှောင်ရုံနှင့် အဆောက်အဦများတည်ဆောက်ခြင်း လုပ်ငန်းတစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ပိုင်းကိုဖြစ်စေ အခြားသူ သို့မဟုတ် ကုမ္ပဏီအား ထပ်ဆင့် ငှားရမ်း လုပ်ကိုင်စေပါက ထပ်ဆင့်လုပ်ကိုင်သူသည် နိုင်ငံသား သို့မဟုတ် ပြည်တွင်းနေ နိုင်ငံခြားသားဖြစ်ပါက ယင်းအားပေးချေငွေအပေါ် ပင်ရင်းမှ နုတ်ယူပေးသွင်းသည့် ဝင်ငွေခွန် ၃ %၊ ပြည်ပနေနိုင်ငံခြားသားဖြစ်ပါက ယင်းအား ပေးချေငွေအပေါ် ပင်ရင်းမှ နုတ်ယူပေးသွင်းသည့် ဝင်ငွေခွန် ၃.၅ %ကို ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၏ ၁၀-၃-၂၀၁၀ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၄၁/၂၀၁၀ အရ ငွေထုတ်ပေးချိန်တိုင်းတွင် ငွေထုတ်ပေးရန် တာဝန်ရှိသူက ဖြတ်တောက် ပေးသွင်းရန် တာဝန်ရှိပါသည်။

(ဌ) ထို့ပြင် အဆိုပါလုပ်ငန်းကို မြန်မာနိုင်ငံအတွင်း ဆောင်ရွက်ရာ၌ ဝင်ရောက်လုပ်ကိုင်သော ပြည်တွင်းနေ နိုင်ငံခြားသားနှင့် နိုင်ငံသား ကျွမ်းကျင်သူများ၊ အင်ဂျင်နီယာများ၊ အတိုင်ပင်ခံများသည် ၎င်းတို့ရရှိသည့်နိုင်ငံခြားငွေဖြင့် လစာငွေစုစုပေါင်းအပေါ် ဝင်ငွေခွန် ၁၀% ကို ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၏ ၅-၆-၂၀၀၆ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ်၊ ၁၂၄/၂၀၀၆ အရ လည်းကောင်း၊ လစာ ဝင်ငွေ ရရှိသူသည် ပြည်ပနေ နိုင်ငံခြားသားဖြစ်ပါက စုစုပေါင်းဝင်ငွေအပေါ် ဝင်ငွေခွန် ၃၅%ကို ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၏ ၅-၆-၂၀၀၆ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၁၅/၂၀၀၆အရ လည်းကောင်း၊ ငွေထုတ်ပေးသူက ဖြတ်တောက်ပေးသွင်းရန်လိုအပ်မည်ဖြစ်ပါကြောင်းနှင့် အခြားအခွန်ဆိုင်ရာကိစ္စရပ်များနှင့်စပ်လျဉ်း၍ တည်ဆဲအခွန်ဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းနှင့် အမိန့်ကြော်ငြာစာများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။

၂။ လိုအပ်သလိုဆောင်ရွက်နိုင်ပါရန် ပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
( လှသိန်းဆွေ ၊ ဒုတိယဝန်ကြီး )

မိတ္တူကို

- မြန်မာနိုင်ငံတော်ဗဟိုဘဏ်
- မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်
- ရသုံးမှန်းခြေငွေစာရင်းဦးစီးဌာန
- ပြည်တွင်းအခွန်များဦးစီးဌာန
- အကောက်ခွန်ဦးစီးဌာန

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း

နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း)

စာအမှတ် ၊ နှစ်ရှည်/စီမံကိန်း/၁၀၁၅/၂၂၅/၂၀၁၀

ရက်စွဲ ၊ ၂၀၁၀ ပြည့်နှစ် ၊အောက်တိုဘာ လ (၂၃ ) ရက်

သို့

ရုံးအဖွဲ့မှူး

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန

နေပြည်တော်

အကြောင်းအရာ။ မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် မြန်မာနိုင်ငံ Stark Industries Co,. Ltd တို့ပူးပေါင်း၍ တနင်္သာရီတိုင်းဒေသကြီး မြိတ်ခရိုင် ၊ တနင်္သာရီမြို့နယ် ကဝက်ဒေသတွင် ဆီအုန်း (၂၅၀၀၀) ဧက စိုက်ပျိုးရန် အဆိုပြုလွှာအား ပြင်ဆင်တင်ပြခြင်း

ရည်ညွှန်းချက် ။ (၁) နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း) ၏ (၁၇.၅.၂၀၁၀) ရက်စွဲပါ စာအမှတ် နှစ်ရှည်/စီမံကိန်း/၁၀၁၅/ ၄၀/၂၀၁၀

(၂) စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန၏ (၁၆.၉.၂၀၁၀) ရက်စွဲပါ စာအမှတ် ၁၁/ MSPP (၇၆၀/၂၀၁၀)

၁။ နိုင်ငံသားကုမ္ပဏီဖြစ်သည့် Stark Industries (SI) Co,Ltd သည် တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ် ကဝက်ဒေသတွင် မြေဧရိယာ (၃၈၀၀၀)ဧက ၌ ဆီအုန်းဧက (၂၅၀၀၀) စိုက်ပျိုးထုတ်လုပ်သည့်လုပ်ငန်း အကောင်အထည်ဖော်နိုင်ရန် ဆောင်ရွက်လျှက်ရှိရာတွင် စီမံကိန်း လုပ်ငန်းအောင်မြင်စေရေး အတွက် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် အစုရှယ်ယာ (၂၀%း၈၀%) ဖြင့် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းကာ ပူးပေါင်းဆောင်ရွက်လိုကြောင်း ၎င်းတို့၏ ပဏာမလုပ်ငန်း အစီရင်ခံစာကို (၁၅.၂.၂၀၁၈) ရက်နေ့တွင် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီး ဌာန၊ ဝန်ကြီးထံ တင်ပြခဲ့ပါသည် ။

၂။ Stark Industries (SI) Co,. Ltd မှတင်ပြခဲ့သည့် မြေဧရိယာ (၃၈၀၀၀) ဧကတွင် ဆီအုန်း (၂၅၀၀၀) ဧက စိုက်ပျိုးထုတ်လုပ်မှုဆောင်ရွက်မည့် လုပ်ငန်းအစီရင်ခံစာအပေါ် ဝန်ကြီးမှ **"Product Sharing စနစ်ဖြင့် ဆောင်ရွက်နိုင်ရေးဆွေးနွေးဆောင်ရွက်ပါ ၊ ဆောင်ရွက်မှုတင်ပြပါ "**ဟု မှတ်ချက်ပြုခဲ့ပါသည် ။

၃။ နှစ်ရှည်ပင်နှင့်စိုက်ပျိုးမွေးမြူရေးလုပ်ငန်းဌာန (နှစ်ရှည်ပင်လုပ်ငန်း) ဦးဆောင်ညွှန်ကြားရေးမှူးသည် Stark Industries Co,. Ltd ၏ Managing Director ဖြစ်သူ ဒေါက်တာမြသီတာဆွေတင် ၊ မလေးရှားနိုင်ငံ Prestige Platform Sdn Bhd ၏ Chief Operating Officerဖြစ်သူ Mr.Ng Chee Joong တို့အား (၆.၄.၂၀၁၀) နေ့က နှစ်ရှည်ပင်လုပ်ငန်းတွင်တွေ့ဆုံပြီး တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင်၊ ကဝကဒေသ တွင် မြေဧရိယာ (၃၈၀၀၀) ဧက ပေါ်တွင် ဆီအုန်း (၂၅၀၀၀) ဧက စိုက်ပျိုးထုတ်လုပ်လိုသည့် လုပ်ငန်းအား မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့်ပူးပေါင်း၍ (၁၀၀%) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ကာ နိုင်ငံတော်အစိုးရနှင့် Product Sharing စနစ်ဖြင့် ဆောင်ရွက်နိုင်ပါကြောင်းနှင့် ဆောင်ရွက်ရန်လိုအပ်သည့် လုပ်ငန်းစဉ်များတို ရှင်းလင်းဆွေးနွေးခဲ့ပါသည်။ ဆွေးနွေးမှုမှတ်တမ်းအား (၉.၄.၂၀၁၀) နေ့ ရက်စွဲပါ စာအမှတ် နှစ်ရှည်/ စီမံကိန်း/ ၁၀၁၅/ ၈၈/၂၀၁၀ ဖြင့် တင်ပြခဲ့ပါသည် ။

၄။ ဆွေးနွေးညှိနှိုင်းမှုများ ပြုလုပ်ပြီးနောက် Stark Industries Co,. Ltd သည် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် အစုရှယ်ယာ (၂၀%း၈၀%) အချိုးနှုန်းဖြင့် ပူးပေါင်း၍ Myanmar Stark Prestige Plantation Co,. Ltd တည်ထောင်ကာ ဆီအုန်းစိုက်ပျိုးခြင်း၊စားအုန်းဆီထုတ်လုပ်ခြင်း၊လုပ်ငန်း၌ ၁၀၀% ရင်းနှီးမြှုပ်နှံမှုပြုလုပ်၍ Product sharing စနစ်ဖြင့်ဆောင်ရွက်ရန် အဆိုပြုလွှာ(မူကြမ်း)ကို တင်ပြလာခဲ့ရာ (၁၇.၅.၂၀၁၀) ရက်စွဲပါစာအမှတ် နှစ်ရှည်/စီမံကိန်း/၁၀၁၅/၄၀/၂၀၁၀ ဖြင့် ဝန်ကြီးရုံးသို့ တင်ပြခဲ့ပါသည်။

၅။ Myanmar Stark Prestige Plantation Co,. Ltd ၏ ၁၀၀% ရင်းနှီးမြှုပ်နှံမှု ဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း) တင်ပြခဲ့ခြင်းနှင့် စပ်လျဉ်း၍ ရှေ့နေချုပ်ရုံး၊ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန၊ နိုင်ငံခြားစီးပွားဆက်သွယ်ရေး ဦးစီးဌာနတို့၏ အကြံပြုချက်များ သဘောထားများတောင်းခံခဲ့ရာ သက်ဆိုင်ရာဌာနများ မှ အကြံပြုချက်များ ၊ သဘောထားများကို တရားဝင်စာဖြင့် အကြောင်းပြန်ကြားလာခဲ့ပါသည်။

၆။ မြန်မာ့နှစ်ရှည်ပင်လုပ်ငန်း ဦးဆောင်ညွှန်ကြားရေးမှူး ဦးဆောင်သော ဌာနခွဲတာဝန်ခံများ ပါဝင်သောအဖွဲ့သည် Stark Industries Co,. Ltd ၏ Managing Director ဖြစ်သူ ဒေါက်တာမြသီတာဆွေတင် အား နှစ်ရှည်ပင်လုပ်ငန်းသို့ (၂၄.၉.၂၀၁၀ နေ့ ၊ (၈.၁၀.၂၀၁၀) နေ့ (၁၂.၁၀.၂၀၁၀) တို့တွင် ခေါ်ယူတွေ့ဆုံပြီး သက်ဆိုင်ရာဌာနများ၏ အကြံပြုချက်များ၊ သဘောထားများ နှင့်အညီ သဘောတူစာချုပ် (မူကြမ်း)တွင် ပါရှိသည့် ပြုပြင်ရမည့်အချက်အလက်များအား အသေးစိတ် ဆွေးနွေးညှိနှိုင်းပြီး ပြင်ဆင်ဖြည့်စွက်မှု များ ပြုလုပ်ခဲ့ပါသည်။

၇။ Stark Industries Co,. Ltd သည် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် အစုရှယ်ယာ (၂၀%း၈၀%) အချိုးနှုန်းဖြင့် ပူးပေါင်း၍ Myanmar Stark Prestige Plantation Co,. Ltd တည်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ တနင်္သာရီမြို့နယ် ကဝက်ဒေသတွင် စုစုပေါင်းမြေဧက (၃၈၀၀၀) ရယူ၍ ဆီအုန်းဧက (၂၅၀၀၀) အား (၅) နှစ်အတွင်း အောက်ပါအတိုင်း နှစ်အလိုက် စိုက်ပျိုးမည်ဖြစ်ပါသည် -

| | | |
|---|---|---|
| (က) | ပထမနှစ် | ၅၀၀ ဧက |
| (ခ) | ဒုတိယနှစ် | ၃၀၀၀ ဧက |
| (ဂ) | တတိယနှစ် | ၅၀၀၀ ဧက |
| (ဃ) | စတုတ္ထနှစ် | ၁၀၀၀၀ ဧက |
| (င) | ပဥ္စမနှစ် | ၆၅၀၀ ဧက |
| | စုစုပေါင်း | ၂၅၀၀၀ ဧက |

၈။ Myanmar Stark Prestige Plantation Co,. Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ တနင်္သာရီ မြို့နယ် ကဝက်ဒေသတွင် ဆီအုန်းဧက (၂၅၀၀၀) အား (၅) နှစ်အတွင်း စိုက်ပျိုးခြင်း၊ ဆီအုန်းစိုက်ပျိုးပြီး (၃) နှစ်တွင် တစ်နာရီလျှင် ဆီသီးခိုင် တန် (၄၀) မှ (၆၀) ထိ ကြိတ်ခွဲနိုင်သည့် US$ (၅) သန်းတန်ဘိုးခန့်ရှိ ဆီကြိတ်စက်ရုံ (၁) ရုံ တည်ဆောက်ပြီး ဆီကြမ်းထုတ်လုပ်မည်ဖြစ်ပါသည်။ သို့ဖြစ်၍ ဆီအုန်းစိုက်ပျိုးပြီး (၄) နှစ်မှစ၍ ဆီကြမ်းထုတ်လုပ်နိုင်မည်ဖြစ်ပါသည်။ ဆီအုန်းစိုက်ပျိုးပြီး (၁၄) နှစ်တွင် (၁) နာရီလျှင် ဆီသန့် (၁၅) တန်မှ (၂၀) တန်ခန့်ထုတ်လုပ်နိုင်မည့် ဆီသန့်စက်ရုံ (၁) ရုံတည်ဆောက်မည်ဖြစ်၍ ဆီအုန်း စိုက်ပျိုးပြီး (၁၅) နှစ်မှစ၍ ဆီသန့်ထုတ်လုပ်နိုင်မည်ဖြစ်ပါသည် ။

၉။ ဆီအုန်းဧက (၂၅၀၀၀) စိုက်ပျိုးထုတ်လုပ်သည့်လုပ်ငန်းတွင် ရင်းနှီးမြှုပ်နှံမှုအနေဖြင့် ပထမအကြိမ် တင်ပြချက်တွင် ကနဦးရင်းနှီး မြှုပ်နှံမှုမှာ US $ (၄၁.၉၂) သန်းဖြစ်ပြီး စုစုပေါင်းရင်းနှီးမြှုပ်နှံမှုတန်ဘိုးမှာ US $ (၁၅၀) သန်းဖြစ်ပါသည်။ ကုမ္ပဏီမှ ယခုတင်ပြချက်တွင် ကနဦးရင်းနှီးမြှုပ်နှံမှု US $ (၃၆.၇၅) သန်း ဖြစ်ပြီး နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှုတန်ဘိုးမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | ယခင်တင်ပြချက် | ယခုတင်ပြချက် |
|---|---|---|---|
| (က) | ပထမနှစ် | US $ ၄.၅၉ သန်း | US $ ၃.၀၁ သန်း |
| (ခ) | ဒုတိယနှစ် | US $ ၆.၉၆ သန်း | US $ ၄.၉၀ သန်း |
| (ဂ) | တတိယနှစ် | US $ ၁၄.၆၀ သန်း | US $ ၁၂.၃၈ သန်း |
| (ဃ) | စတုတ္ထနှစ် | US $ ၉.၇၁ သန်း | US $ ၁၀.၁၃ သန်း |
| (င) | ပဥ္စမနှစ် | US $ ၆.၀၆ သန်း | US $ ၆.၃၃ သန်း |
| | စုစုပေါင်း | US $ ၄၁.၉၂ သန်း | US $ ၃၆.၇၅ သန်း |

၁၀။ ထုတ်လုပ်မှုအပေါ် အကျိုးအမြတ်ခွဲဝေမှုအနေဖြင့် ဆီအုန်းစိုက်ပျိုးပြီး ဆီသီးခိုင်စတင်ထွက်ရှိလာသည့် အချိန်မှစ၍ အောက်ပါ Product Sharing Ratio ဖြင့် နှစ်ဦးနှစ်ဖက်အချိုးကျ ခွဲဝေမည်ဖြစ်ပါသည် -

| စဉ် | ကာလ | ခွဲဝေမည့်အချိုး |
|---|---|---|
| (က) | ဆီသီးခိုင်စတင်ထွက်ရှိချိန်မှ (၁၀) နှစ်ထိ | ၂.၅ % : ၉၇.၅% (ဆီကြမ်း) |
| (ခ) | (၁၁) နှစ်မှ (၁၄) နှစ်ထိ ထုတ်လုပ်မှု၏ | ၅% : ၉၅ % (ဆီကြမ်း) |
| (ဂ) | (၁၅) နှစ်မှ (၁၈) နှစ်ထိ ထုတ်လုပ်မှု၏ | ၇% : ၉၃ % (ဆီကြမ်း) သို့မဟုတ် (ဆီသန့်) |
| (ဃ) | (၁၉) နှစ်မှ (၂၂) နှစ်ထိ ထုတ်လုပ်မှု၏ | ၅% : ၉၅ % (ဆီကြမ်း) သို့မဟုတ် (ဆီသန့်) |
| (င) | (၂၃) နှစ်မှ နောက်ပိုင်းကာလအထိ | ၂.၅% : ၉၇.၅% (ဆီကြမ်း) သို့မဟုတ် (ဆီသန့်) |

၁၁။ ဆီအုန်းဧက (၂၅၀၀၀) အား (၅) နှစ်အတွင်းစိုက်ပျိုးပြီး Product sharing စနစ်ဖြင့် ဆောက်ရွက်ခြင်းဖြင့် ဆီသီးခိုင်အဆင့် ၊ ဆီကြမ်းအဆင့် ၊ ဆီသန့်အဆင့် ထုတ်လုပ်ခြင်းတို့တွင် (၃၄) နှစ်အတွင်း နိုင်ငံတော်မှ ရရှိမည့် ခန်းမှန်းထုတ်လုပ်မှုနှင့်ဝင်ငွေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။ စုစုပေါင်း ခန့်မှန်းထုတ်လုပ်မှုနှင့် ဝင်ငွေ ၊ နိုင်ငံတော်မှ ရရှိမည့် ခန့်မှန်းထုတ်လုပ်မှုနှင့် ဝင်ငွေတွက်ချက်မှု အသေးစိတ်အား **နောက်ဆက်တွဲ (က)** ဖြင့် ဖော်ပြထားပါသည် -

| စဉ် | အကြောင်းအရာ | ထုတ်လုပ်မှု (မ/တန်) | ဝင်ငွေ ကျပ်သန်း | ဝင်ငွေ US$သန်း |
|---|---|---|---|---|
| (က) | ဆီသီးခိုင်ထုတ်လုပ်ခြင်း | ၂၆၆၀၄၂ | ၁၃၈၃၄ | ၁၃.၈၃၄ |
| (ခ) | ဆီကြမ်းထုတ်လုပ်ခြင်း | ၅၃၂၀၈ | ၂၆၆၀၄ | ၂၆.၆၀၄ |
| (ဂ) | ဆီသန့်ထုတ်လုပ်ခြင်း | ၃၉၉၀၅ | ၃၈၇၀၈ | ၃၈.၇၀၈ |

၁၂။ မြေဧရိယာ (၃၈၀၀၀) ဧကရယူ၍ ဆီအုန်းဧက (၂၅၀၀၀) စိုက်ပျိုးထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်မည့် တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ တနင်္သာရီမြို့နယ် ကဝက်ဒေသ၏ တည်နေရာပြ မြေပုံအညွှန်းအရ မြန်မာပြည် မြေပုံရွက်ရေ အမှတ် (၉၆) စကေး ၁ လက်မ =၁ မိုင် ၊ မြောက်ပြေးမျဉ်း ၇၆၀ ကြား ၊ ရှေ့သားမျဉ်း ၉၃ နှင့် ၇၆ ကြားရှိအောက်ပါ မြေပုံအညွှန်းအတိုင်းဖြစ်ပါသည် -

ခန့်မှန်း:Y ၉၃၀၇၆၀ မှ မြောက်ပြေးမျဉ်းအတိုင်း ခန့်မှန်း Z ၀၆၀၇၆၀ မှ ရှေ့သားမျဉ်းအတိုင်း ခန့်မှန်း Z ၀၆၀၆၀၀ မှ မြောက်ပြေးမျဉ်းအတိုင်း ခန့်မှန်း:Y ၉၉၀၆၀၀ မှ ခန့်မှန်း Y ၉၉၀၅၇၀ မှ မြောက်ပြေးမျဉ်း (၅၇) ၎င်းမှ ခန့်မှန်း Y ၉၄၀၅၇၀ မှ လမ်းအတိုင်း ခန့်မှန်း:Y ၉၅၅၆၅၀ မှ လမ်းအတိုင်း ခန့်မှန်း:Y ၉၈၀၆၇၀ မှ ခန့်မှန်း:Y ၉၃၀၇၆၀

၁၃။ မြေဧရိယာ (၃၈၀၀၀) ဧကရယူ၍ ဆီအုန်းဧက (၂၅၀၀၀) စိုက်ပျိုးရန် လျှောက်ထားသည့် တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ တနင်္သာရီမြို့နယ် ၊ ကဝက်ဒေသတည်နေရာပြမြေပုံအား **နောက်ဆက်တွဲ (ခ)** ဖြင့် တင်ပြထားပါသည် ။

၁၄။ Stark Industries Co,. Ltd နှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd တို့ ဖက်စပ်ကုမ္ပဏီဖွဲ့စည်း၍ တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ တနင်္သာရီမြို့နယ် ၊ ကဝက်ဒေသတွင် ဆီအုန်း (၂၅၀၀၀) ဧက စိုက်ပျိုးရန် ၊ မြေဧရိယာ (၃၈၀၀၀) ဧက လျှောက်ထားဆောင်ရွက်မှုနှင့် ပတ်သက်၍ တနင်္သာရီတိုင်း အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ တိုင်းမြေစာရင်းဦးစီးဌာန ၊ တိုင်းမန်နေဂျာရုံး (နှစ်ရှည်ပင်လုပ်ငန်း) တို့မှ လျှောက်ထားသည့် မြေဧရိယာနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား မှတ်ချက် ပြန်ကြားခဲ့ပါသည်။ ၎င်းတို့၏သဘောထားမှတ်ချက်များအား **နောက်ဆက်တွဲ (ဂ)** ဖြင့် ဖော်ပြထားပါသည် ။

၁၅။ Stark Industries Co,. Ltd နှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd တို့သည် ဖက်စပ်ကုမ္ပဏီဖွဲ့စည်းပြီး ဆီအုန်းဧက (၂၅၀၀၀) အား (၅) နှစ်အတွင်း စိုက်ပျိုးရာတွင် လုပ်ငန်းအာမခံချက်အဖြစ် နှစ်အလိုက်ရင်းနှီးမြှုပ်နှံငွေ၏ (၃%)ကို Performance Bank Guarantee အဖြစ်ပေးဆောင်စေမည် ဖြစ်ပါသည် ။

၁၆။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနမှ ပြန်ကြားလာသည့် သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ-ဃ** ဖြင့် လည်းကောင်း၊ ရှေ့နေချုပ်ရုံးမှ ပြန်ကြားလာသည့် သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ-င** ဖြင့် လည်းကောင်း ၊ နိုင်ငံခြားစီးပွားဆက်သွယ်ရေးဦးစီးဌာန၏ သဘောထားမှတ်ချက်အား **နောက်ဆက်တွဲ-စ** ဖြင့် လည်းကောင်း ပူးတွဲတင်ပြထားပါသည်။

၁၇။ Stark Industries Co,. Ltd နှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd တို့အစုရှယ်ယာ (၂၀%:၈၀%) အချိုးဖြင့် ဖက်စပ်ကုမ္ပဏီ Myanmar Stark Prestige Plantation Co,. Ltd တည်ထောင်ကာ တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ခရိုင် ၊ တနင်္သာရီမြို့နယ် ၊ ကဝက်ဒေသတွင် မြေဧရိယာ (၃၈၀၀၀)ဧက ရယူ၍ ဆီအုန်း ဧက (၂၅၀၀၀) စိုက်ပျိုးထုတ်လုပ်သည့် လုပ်ငန်းဆောင်ရွက်နိုင်ရန် ပြင်ဆင်ဖြည့်စွက်မှုများ ပြုလုပ်ထားသည့် ၊ အောက်ပါအချက်အလက် များပါရှိသည့် အဆိုပြုလွှာကို ပြုစုတင်ပြထားပါသည် -

(က) ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်

(ခ) Project Schedule

(ဂ) Product Sharing

(ဃ) Cash Flow Statement

(င) Performance Bank Guarantee ပုံစံ

(စ) Product Sharing စနစ်ဖြင့် (၁၀၀%) နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း)

(ဆ) Stark Industries Co,. Ltd နှင့် Prestige Platform Sdn Bhd တို့ကြား Joint Venture Agreement

၁၈။ သို့ဖြစ်ပါ၍ Stark Industries Co,. Ltd နှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd တို့ပူးပေါင်း၍ Myanmar Stark Prestige Plantation Co,. Ltd တည်ထောင်ကာ ဆီအုန်းစိုက်ပျိုးခြင်း စားအုန်းဆီထုတ်လုပ် ခြင်းလုပ်ငန်း၌ ၁၀၀% ရင်းနှီးမြှုပ်နှံမှုပြုလုပ်၍ Product sharing စနစ်ဖြင့် ဆောင်ရွက်နိုင်ရန် တင်ပြသည့် အဆိုပြုလွှာအားသိရှိ၍ ဆက်လက်ဆောင်ရွက်မှုပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

ကြည်ဝင်း
ဦးဆောင်ညွှန်ကြားရေးမှူး

မိတ္တူကို
စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန
ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန
မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း
ရုံးလက်ခံ /မျှော

သစ် တော ဦး စီး ဌာ န ။
ညွှန် ကြား ရေး မှူး ရုံး ။
တ နင်္သာ ရီ တိုင်း - မြိတ် မြို့ ။
စာအမှတ် ။ ၅၅၉၆-၅၅၉၉/ သ(င) ၅ ။
ရက်စွဲ ။ ၂၀၁၀ ခုနှစ်၊ ဇွန်လ ( ၁၀ ) ရက် ။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့ ။

အကြောင်းအရာ ။ ခွင့်ပြုချက်ရယူရာတွင်ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံစာထုတ်ပေးပါရန်လျှောက်ထားခြင်းကိစ္စ ။

ရည် ညွှန်း ချက်။ (၁) Star K Indrstries SI Co, Ltd . ၏(၂၇.၄.၂၀၁၀)ရက်စွဲပါလျှောက်ထားချက်

(၂) ညွှန်ကြားရေးမှူး၊ သစ်တောဦးစီးဌာန၊ တနင်္သာရီတိုင်း၊ မြိတ်မြို့၏ (၁၄.၅.၂၀၁၀) ရက်စွဲပါစာအမှတ်၊ ၄၆၄၂-၄၆၄၅/သ(င)၅ ။

(၃) ဦးစီးရုံးချုပ်၊ နေပြည်တော်၏(၃.၆.၂၀၁၀)ရက်စွဲပါစာအမှတ်၊ စီမံကိန်း/စ-၁၉(၄၈၂၉-၃၀/၂၀၁၀)။

မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝက်ဒေသတွင် ဧကရိုင်းမြေ(၃၈၀၀၀)ဧကအား ဆီအုန်းစိုက်ပျိုးခွင့်ရရှိထားသည့် Star K Indrstries SI Co, Ltd . နှင့် မလေးရှားနိုင်ငံ Prestige Platform Sdn Bhd တို့အကြား (၈၀း၂၀)အချိုးဖြင့် Myanmar Star K Prestige Plamtation Co, Ltd . (နိုင်ငံခြားဖက်စပ်ကုမ္ပဏီ)ကို တရားဝင်မှတ်ပုံတင်ဖွဲ့စည်းကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရယူဆောင်ရွက်လျှက်ရှိပြီး တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှလည်း ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံချက်အပေါ် တိုင်းသစ်တောဦးစီးဌာန၏ ကန့်ကွက်ရန်မရှိသဘောတူကြောင်း ထောက်ခံစာထုတ်ပေးပါရန် ရည်ညွှန်း(၁)ပါစာဖြင့် လျှောက်ထားလာပါသည်။

၂။ ရည်ညွှန်း(၂)ပါစာဖြင့် ဦးစီးရုံးချုပ်သို့တင်ပြခဲ့ရာ ရည်ညွှန်း(၃)ပါစာဖြင့် အကြောင်းကြားချက်အရ Star K Indrstries SI Co, Ltd . မှဆီအုန်း(၃၈၀၀၀)ဧက စိုက်ပျိုးခွင့်ရရှိသည့် မြေနေရာသည် သစ်တောမြေအတွင်း ကျရောက်မှုမရှိပါသဖြင့် အောက်ဖော်ပြပါအတိုင်း ပြန်ကြားအပ်ပါသည် -

"သစ်တောမြေအတွင်းကျရောက်ခြင်းမရှိသော်လည်း သစ်တောဖုံးလွှမ်းမှုရှိပါက -

(က) ၁၉၉၂ ခုနှစ်၊ နိုဝင်ဘာလတွင် ထုတ်ပြန်ထားသော သစ်တောဥပဒေပုဒ်မ(၁၂)(က)အရ- မည်သူမဆို သစ်တောနယ်မြေနှင့် သစ်တောဖုံးလွှမ်းလျှက်ရှိသည့် အစိုးရကစီမံခန့်ခွဲခွင့်ရှိသောမြေအတွင်း ဖွံ့ဖြိုးရေးလုပ်ငန်း(သို့မဟုတ်)စီးပွားရေးစီမံကိန်းလုပ်ငန်းတစ်ရပ်ရပ်ကို လုပ်ကိုင်ဆောင်ရွက်လိုလျှင် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောတူညီချက်ကို ကြိုတင်ရယူမည်၊

(ခ) ၁၉၉၅ခုနှစ်၊ ဒီဇင်ဘာလတွင် ထုတ်ပြန်ထားသော သစ်တောနည်းဥပဒေပုဒ်မ ၂၀(က)အရ သစ်တောနယ်မြေနှင့် သစ်တောဖုံးလွှမ်းလျက်ရှိသည့် အစိုးရကာစီမံခန့်ခွဲမှုရှိသော မြေအတွင်း ဖွံ့ဖြိုးမှုလုပ်ငန်း (သို့မဟုတ်)စီးပွားရေးလုပ်ငန်းတစ်ရပ်ရပ်လုပ်ကိုင်ဆောင်ရွက်ခြင်းကို သဘာဝဝန်းကျင်အား ထိခိုက်ပျက်စီးစေခြင်းမရှိလျှင် သစ်တောရေးရာဝန်ကြီးဌာနက ခွင့်ပြုနိုင်သည်၊

(ဂ) ၁၉၉၅ခုနှစ်၊ ဒီဇင်ဘာလတွင် ထုတ်ပြန်သောသစ်တောနည်းဥပဒေပုဒ်မ ၂၂(က)အရ ခွင့်ပြုချက်ရရှိသူသည် သက်ဆိုင်ရာခွင့်ပြုချက်တွင် သတ်မှတ်ခွင့်ပြုထားသော ကိစ္စရပ်များကိုသာ ဆောင်ရွက်ခွင့်ရှိသည်၊ ယင်းသို့ဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်ပျက်စီးစေခြင်းမရှိစေရန် အလေးဂရုပြုရမည်" ။

(မြင့်သိန်း)
ညွှန်ကြားရေးမှူး
သစ်တောဦးစီးဌာန
တနင်္သာရီတိုင်း၊ မြိတ်မြို့ ။

မိတ္တူ ကို -

(၁) ညွှန်ကြားရေးမှူး(စီမံကိန်းနှင့်စာရင်းအင်းဌာန)၊ သစ်တောဦးစီးရုံးချုပ်၊ နေပြည်တော် ။
(၂) Star K Indrstries SI Co, Ltd .
(၃) မျှောစာတွဲ ။
(၄) ရုံးလက်ခံ ။

Stoe (c) Lin 46

တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ
တနင်္သာရီတိုင်း၊ မြိတ်မြို့
စာအမှတ်၊ ၁၈၅၇/၅၀၄/၅-၄/တယက(တနင်္သာရီ)
ရက်စွဲ၊ ၂၀၁၀ပြည့်နှစ်၊ ဧပြီလ ၂၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **Stark Industries (SI)Co.,Ltd** မှ တရားဝင်မှတ်ပုံတင်ဖွဲ့စည်းရေးအတွက် သဘောထားမှတ်ချက်တင်ပြတောင်းခံခြင်းကိစ္စ

၁။ **Stark Industries (SI)Co.,Ltd** သည် တနင်္သာရီတိုင်း၊မြိတ်ခရိုင်၊တနင်္သာရီမြို့နယ်၊ကဝက်ဒေသတွင် တောရိုင်းမြေဧရိယာ(၃၈၀၀၀)ဧကအား ဆီအုန်းစိုက်ပျိုးထုတ်လုပ်ရန်လုပ်ကိုင်ခွင့်ပြုထားပြီးဖြစ်ရာ ယခုအခါ မလေးရှားနိုင်ငံ၊ **Prestige Platform Sdn Bhd** နှင့် **Stark Industries (SI)Co.,Ltd**အကြား (၈၀:၂၀)အချိုးနှုန်းဖြင့် **Myanmar Stark Prestige Plantation Co.,Ltd** (နိုင်ငံခြားဖက်စပ်ကုမ္ပဏီ)ကိုတရားဝင်မှတ်ပုံတင်ဖွဲ့စည်းကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရယူဆောင်ရွက်နိုင်ရေးအတွက် တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏သဘောထားပေးပါရန် တင်ပြလျှောက်ထားချက်အပေါ် ကန့်ကွက်ရန်မရှိကြောင်း(၂၂-၄-၂၀၁၀)ရက်နေ့တွင် ကျင်းပပြုလုပ်သော တိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ အလုပ်အမှုဆောင်အစည်းအဝေးအမှတ်စဉ်(၆/၂၀၁၀)ဆုံးဖြတ်ချက်အပိုဒ်(၁၃)အရ အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(ဦးရဲနိုင်အောင်၊အတွင်းရေးမှူး)

မိတ္တူကို

မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း(နှစ်ရှည်ပင်)မြိတ်မြို့
Stark Industries (SI) Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ

မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေး လုပ်ငန်း
တနင်္သာရီတိုင်း၊ မြိတ်မြို့

လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း(နှစ်ရှည်ပင်)
တိုင်းမန်နေဂျာရုံး ၊တနင်္သာရီတိုင်း၊ မြိတ်မြို့
စာအမှတ်- တမရ/စက -၂၂ /၂၀၁၀/(၀၄)
ရက်စွဲ ၊ ၂၀၁၀ ခုနှစ်၊ ဧပြီလ (၃၀ ) ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ ။ထောက်ခံချက်ပေးပို့ခြင်း။

ရည် ညွှန်း ချက်။ ။ STARK INDUSTRIES (SI) CO , LTD ၏ (၂၄. ၄. ၂၀၁၀) ရက်စွဲပါ
စာအမှတ် - ၂၆၀/ SI / ၂၀၁၀

STARK INDUSTRIES (SI) CO. LTD သည် တနင်္သာရီတိုင်း၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝကဲ့ဒေသတွင် တောရိုင်းမြေဧရိယာ (၃၈၀၀၀)အား ဆီအုန်းစိုက်ပျိုးထုတ်လုပ်ရန် လုပ်ကိုင်ခွင့်ပြုထားပြီးဖြစ်ရာ ယခုအခါ မလေးရှားနိုင်ငံ Prestige Platform Sdn Bhd နှင့် STARK INDUSTRIES (SI) CO , LTD အကြား (၈၀ : ၂၀)ရှယ်ယာအချိုးနှုန်းဖြင့် Myanmar Stark Prestige Plantation Co. Ltd (နိုင်ငံခြားဖက်စပ်ကုမ္ပဏီ) ကိုတရားဝင်မှတ်ပုံတင်ဖွဲ့စည်းကာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရယူဆောင်ရွက်နိုင်ရေးအတွက် တင်ပြလျှောက်ထားချက်အပေါ် တနင်္သာရီတိုင်း၊ မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း(နှစ်ရှည်ပင်) အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

(ခွန်ရွှေသင်း)
တိုင်းမန်နေဂျာ
မြန်မာ့စက်မှုသီးနှံဖွံ့ဖြိုးရေးလုပ်ငန်း(နှစ်ရှည်ပင်)
တနင်္သာရီတိုင်း

မိတ္တူကို -
- STARK INDUSTRIES (SI) CO , LTD
- ရုံးလက်ခံ။

တိုင်း မြေ စာ ရင်း ဦး စီး ဌာ န
တ န သာ် ရီ တိုင်း ၊ မြိတ် မြို့
စာအမှတ်၊ ၅၁၄ / အ ထ - ၁
ရက်စွဲ။ ၂၀၁၀ ပြည့်နှစ်၊ ဧပြီလ ၂၉ ရက်

သို့

မန်နေးဂျင်းဒါရိုက်တာ

Stark Industries (SI) Co., Ltd

အကြောင်းအရာ။ **MICခွင့်ပြုချက်ရယူရာတွင် ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံစာထုတ်ပေးရန်ကိစ္စ။**

ရည် ညွှန်း ချက်။ Stark Industries (SI) Co., Ltd၏ (၂၇-၄-၂၀၁၀) ရက်စွဲပါစာအမှတ်-၂၅၈/အက်စ်အိုင်/၂၀၁၀

Stark Industries (SI) Co., Ltd ကုမ္ပဏီသည် တနင်္သာရီတိုင်း၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝက်ဒေသတွင် တောရိုင်းမြေဧရိယာ(၃၈၀၀၀)ကေ့ရယူ၍ နိုင်ငံခြားသားကုမ္ပဏီနှင့် အကျိုးတူစတင်ဆောင်ရွက်လျက်ရှိရာ၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခွင့်ပြုချက်ရရှိရေး ဆောင်ရွက်ရာတွင် တနင်္သာရီတိုင်း၊ တိုင်းမြေစာရင်းဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားအပ်ပါသည်။

(အေးကို)
တိုင်းမြေစာရင်းဦးစီးဌာနမှူး

မိတ္တူကို -

- ရုံးလက်ခံ
- မျှောစာတွဲ

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန

စာအမှတ်၊ ၄၈၂၂ / မယ (ဖ) (၆) ၂၀၁၀
ရက်စွဲ၊ ၂၀၁၀ ခုနှစ်၊ ဇွန်လ ( ၂၈ ) ရက်

အကြောင်းအရာ။ **မလေးရှားနိုင်ငံ၊ Prestiage Platform Sdn Bhd နှင့် မြန်မာနိုင်ငံ Stark Industries Co., Ltd တို့ ပူးပေါင်း၍ တနင်္သာရီတိုင်းအတွင်း ဆီအုန်းစိုက်ခင်းများ ထူထောင်ရေးကိစ္စ။**

ရည် ညွှန်း ချက်။ (၁) စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန၏ (၁၈.၅.၂၀၁၀)ရက်စွဲပါစာအမှတ် ၀၁/Stark Industries (၄၂၈/၂၀၁၀)
(၂) ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန၊ ရုံးချုပ်၏ (၇.၆.၂၀၁၀)ရက်စွဲပါစာအမှတ်၊ ၄၀၄၆(က)/မယ(ဖ)(၆)၂၀၁၀

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မလေးရှားနိုင်ငံ၊ Prestiage Platform Sdn Bhd နှင့် မြန်မာနိုင်ငံ Stark Industries Co., Ltd တို့ ပူးပေါင်း၍ တနင်္သာရီတိုင်း၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ဘက်ဒေသတွင် ဆီအုန်း(၂၅,၀၀၀)ဧက စိုက်ပျိုးရန် အဆိုပြုလာသည့်ကိစ္စနှင့်စပ်လျဉ်း၍ အဆိုပြုဒေသတွင် ဆီအုန်းစိုက်ခင်းများထူထောင်ရန် မြေနေရာချထားပေးနိုင်ခြင်းရှိမရှိ ပြန်ကြားပေးပါရန် ရည်ညွှန်း(၁)ပါ စာဖြင့် အကြောင်းကြားခဲ့သဖြင့် တနင်္သာရီတိုင်းအေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ (၂၅.၄.၂၀၁၀)ရက်စွဲပါ စာအမှတ်၊ ၁၈၅၇/၅၀၄/၅-၄/တယက(တနင်္သာရီ)ဖြင့် Stark Industries Co., Ltd အား တနင်္သာရီတိုင်း၊ ဘုတ်ပြင်းမြို့နယ်၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ဘက်ဒေသတွင် တောရိုင်းမြေဧရိယာ (၃၀,၀၀၀)ဧကအား ဆီအုန်းစိုက်ပျိုးရန် ကြိုတင်လုပ်ကိုင်ခွင့်ချထားပေးပြီးဖြစ်သည့်အပြင် လက်ရှိတွင်လည်း မြေပြင်ပေါ်၌ မြေယာပြင်ဆင်ခြင်းနှင့်ဆီအုန်းပျိုးခင်းများ ပျိုးထောင်စိုက်ပျိုးလုပ်ကိုင်လျက်ရှိပါသဖြင့် မြေပေးနိုင်သည့် အခြေအနေရှိပါကြောင်း ရည်ညွှန်း(၂)ပါစာဖြင့် ပြန်ကြားခဲ့ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ တနင်္သာရီတိုင်းအေးချမ်းသာယာရေး နှင့်ဖွံ့ဖြိုးရေးကောင်စီမှ Stark Industries Co., Ltd သို့ ကြိုတင်လုပ်ကိုင်ခွင့် ချထားပေးမည့်သည့်ဧရိယာမှာ တောရိုင်းမြေ (၃၈,၀၀၀)ဧက ဖြစ်ပါကြောင်း ပြင်ဆင်ပြန်ကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်( ကိုယ်စား )
( သက်နိုင်ဦး)
ညွှန်ကြားရေးမှူး ( မြေယာ )

**ညွှန်ကြားရေးမှူးချုပ်**
**စိုက်ပျိုးရေးစီမံကိန်းဦးစီးဌာန**
မိတ္တူကို -
- ညွှန်ကြားရေးမှူးချုပ်(စာတွဲဖိုင်)
- ဒုတိယညွှန်ကြားရေးမှူးချုပ်(စာတွဲဖိုင်)
- မျှောစာတွဲ (စီမံ/မြေယာ)
- ရုံးလက်ခံ။

DAP

# STARK INDUSTRIES (SI) CO., LTD.

No. 33, Nawaday Road, Yawmingyi Ward, Dagon P.O., Yangon 11191, Union of Myanmar.
Tel: (951) 388085, 246186, 253225 Fax: (951) 388086 E-mail: sicl @ yangon. net.mm


သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်။ ။ ၃၈၁/အက်စ်အိုင်/၂၀၁၀
ရက်စွဲ ။ ။ ၂၀၁၀ ခုနှစ်၊ ဒီဇင်ဘာလ (၁၅) ရက်

အကြောင်းအရာ။ ။ မလေးရှားနိုင်ငံ Prestige Plantform Sdn Bhd နှင့် မြန်မာနိုင်ငံ၊ Stark Industries Co., Ltd တို့ ပူးပေါင်း၍ Myanmar Stark Prestige Plantation Co., Ltd ( MSPP ) ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းကာ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝက်–ကျော့မပြင်းဒေသတွင် ဆီအုန်း (၃၈,၀၀၀) ဧက စိုက်ပျိုးရန် အဆိုပြုလွှာတင်ပြခြင်းကိစ္စ။

Stark Industries Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ ကဝက်–ကျော့မပြင်းဒေသတွင် ဧက (၃၈,၀၀၀) ဆီအုန်းစိုက်ပျိုးထုတ်လုပ်ရေးစီမံကိန်းအား မလေးရှားနိုင်ငံ၊ Prestige Plantform Sdn Bhd နှင့် (၂၀:၈၀) ရှယ်ယာအချိုးဖြင့် Myanmar Stark Prestige Plantation Co., Ltd (MSPP) အားဖွဲ့စည်းလျှက် နိုင်ငံတော်နှင့် Product Sharing စနစ်ဖြင့် ဆောင်ရွက်ရာတွင် -

(၁) နိုင်ငံတော်မှ လုံလောက်သော လျှပ်စစ်ဓါတ်အား မရရှိသေးသမျှ ကာလပတ်လုံး မိမိ၏ ကိုယ်ပိုင်အစီအစဉ်ဖြင့် (လိုအပ်သော Generator များ တင်သွင်းလျှက် ) စီမံကိန်းအတွက်လိုအပ်သော လျှပ်စစ်ဓါတ်အား ထုတ်လုပ်ရယူသုံးစွဲသွားပါမည် ဖြစ်ကြောင်း နှင့်

(၂) အထက်ဖော်ပြပါ စီမံကိန်းအား အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် နိုင်ငံခြားချေးငွေ (Share Holder Loan) ရယူ ဆောင်ရွက်ရပါသော်လည်း အဆိုပါ ချေးငွေအပေါ် အတိုးပေးရန် လုံးဝ တာဝန်မရှိပါကြောင်း ရိုသေစွာတင်ပြအပ်ပါသည်။

STARK INDUSTRIES CO., LTD.
Ref.........
Date 15.12.10

လေးစားစွာဖြင့်

ဒေါက်တာမြင့်သီတာဆွေတင်
Managing Director
Stark Industries Co., Ltd.

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန် အဆိုပြုချက်

# PROPOSAL OF THE PROMOTER TO MAKE FOREIGN INVESTMENT IN THE UNION OF MYANMAR

## Proposal of the promoter to make Foreign Investment in the Union of Myanmar

To

The Chairman,
Myanmar Investment Commission,
Nay Pyi Taw, Union of Myanmar

Reference No: 380 / SI / 2010
Date: 15th December, 2010

I wish to make investment in the union of Myanmar in accordance with the Union of Myanmar Foreign investment law, and I here with apply for permission furnishing the following particulars-

1. **Promoter's-**
   (a) Name........Daw Mya Thidar @ Dr. Mya Thidar Sway Tin, Managing Director
   (b) Father's Name........U Ba Myint........
   (c) National registration No...12/Da Ga Na (Naing) 022867........
   (d) Citizenship........Myanmar........
   (e) Address........No. 33, Bo Yar Nyunt Road, Yawmingyi Ward,
   Dagon Township, Yangon 11191, Myanmar........
   (f) Name of principle organization..STARK INDUSTRIES CO., LTD.........
   (g) Type of business....Private Company Limited........
   ( Industry / Production Type of Business)........
   (h) Place of organization....No. 33, Naway Road, Yawmingyi Ward, Dagon Township,
   ........Yangon 11191, Myanmar........
   (i) Place of incorporation...Yangon, Union of Myanmar........

2. **If investment is to be made by joint-venture, the particulars of the person wishing to participate in the joint-venture with the promoter-**

   (a) Name........(1) Mr. Tan Ghee Kiat, Director,
   ........(2) Mr. T.V. Sekhar T.G. Venkatesan, Director........
   (b) Father's Name........
   (c) Passport No....(1) Malaysia Passport No: A18482445, NRIC No. 481215-10-5601
   ........(2) Malaysia Passport No: A 19874881, NRIC No: 491213-08-........
   (d) Citizenship........(1) Malaysia/Chinese........
   ........(2) Malaysia/Indian........
   (e) Address....(1) No.7, Lorong Tempinis Kanan Dua, Lucky Garden Bangsar, 59100 K.L.
   (2) No. 12, Jalan Terasek 7, Bangsar Baru, 59100 Kuala Lumpur........
   (f) Name of principle organization....PRESTIGE PLATFORM SDN. BHD........
   (g) Type of business....Investment Holding Private Company Limited........
   (h) Place of organization....Suite 16-08, Level 16, Wisma UOA II, 21, Jalan Pinang,
   ........50450 Kuala Lumpur, Malaysia........
   (i) Place of incorporation......Malaysia........

